# ကန့်သတ်

ကုမ္ပဏီအမည် - AA Interiors Myanmar Limited

လုပ်ငန်း: - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် AA Interiors Myanmar Limited မှ အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၅-၆-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၂၂-၆-၂၀၁၄ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၆-၆-၂၀၁၅ | ၁၆-၇-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၆-၆-၂၀၁၅ | ၃-၈-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၆-၆-၂၀၁၅ | ၁၇-၇-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း (၁၅/၂၀၁၅) | ၂၂-၆-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၄-၆-၂၀၁၅ | | |
| ၅ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၉/၂၀၁၅) သို့ တင်ပြခြင်း | | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး (၁၄/၂၀၁၅) သို့ တင်ပြခြင်း | ၁၆-၇-၂၀၁၅ | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၆ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၂၁-၈-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၆၆ ရက် | | |

၁။ ကုမ္ပဏီအမည် AA Interiors Myanmar Limited
၂။ အဖွဲ့အစည်းပုံသဏ္ဍာန် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား အိမ်တွင်းသုံးခေတ်မီသစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်းအလှဆင်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း
၄။ တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ဒဂုံဆိပ်ကမ်း စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၀.၆၆၄ သန်း
၆။ ရောင်းချမည့်စနစ် ပြည်ပပို့ ၃၀% နှင့် ပြည်တွင်းရောင်း ၇၀% ရောင်းချမည် ဖြစ်ပါသည်။
၇။ လုပ်ငန်းသက်တမ်း ၃၀ နှစ်
၈။ အရင်းကြေကာလ ၄ နှစ် ၅ လ
၉။ IRR ၁၉%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၀.၀၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၆၄.၀၀၀ |
| ၅ | ဝင်ငွေခွန် | ၃၂၉.၅၀၀ | ၂၀.၀၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၁၇၉၉.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၁၀၂)ဦး |
| ၈ | CSR (၂%) | | ၁၁.၀၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၃၆၀.၀၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၁၃၀ ဦး<br>ပြည်ပ ၂၅ ဦး<br>ပြည်တွင်းလုပ်သား (၁၅၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၃၇၁.၆၆၀ | ၂၆၅၅.၁၆၅ |
| | **Cost & Benefit** | ၁:၇ | |

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် AA Interiors Myanmar Limited မှ အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်းအလှဆင် ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - AA Interiors Myanmar Limited |
| | | - Mr. Ooi Wee Tat |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (ဗီယက်နမ်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်းအလှဆင်ပစ္စည်းများ |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ဒဂုံဆိပ်ကမ်း စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၊ |
| | မြေပိုင်ရှင် | - Mermaid Smile Company Limited |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၂.၂၉၄ ဧက အနက်မှ ၁.၀ ဧက (၄၀၄၆.၈၆ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၇၂,၀၀၀.၀၀ နှုန်း (တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၁၇.၇၉ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၀.၆၆၄ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **Foreign Capital (US$ သန်း)** |
| | ငွေသား | ၀.၁၅၀ |
| | စက်နှင့် စက်ပစ္စည်း(ပြည်ပဝယ်) | ၀.၃၂၂ |
| | ကုန်ကြမ်းပစ္စည်း | ၀.၁၀၂ |
| | လျှပ်စစ်ပစ္စည်းများ | ၀.၀၉၀ |
| | **စုစုပေါင်း** | **၀.၆၆၄** |
| ၆။ | ဝန်ထမ်းအင်အား | - **၁၅၅ ဦး** |
| | ပြည်တွင်း | - ၁၃၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၅၀၀,၀၀၀ကျပ်) |
| | ပြည်ပ | - ၂၅ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာ US$ ၂၅၀၀) |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်းရောင်း(၇၀%)၊ ပြည်ပတင်ပို့(၃၀%) |

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်တွင်းရောင်း၇၀%)

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁ | Doors | Set | ၁,၅၇၅ | ၁၈၀,၀၀၀ |
| ၂ | Wardrobes | Set | ၂၁၀ | ၅၀၀,၀၀၀ |
| ၃ | Beds | Set | ၂၁၀ | ၃၀၀,၀၀၀ |
| ၄ | Kitchen | Set | ၁၀၅ | ၈၀၀,၀၀၀ |
| ၅ | Chairs (Sofa+Coffee) | Set | ၂၁၀ | ၆၀၀,၀၀၀ |
| ၆ | Tables | Set | ၁၀၅ | ၁,၂၀၀,၀၀၀ |
| ၇ | Ceiling Walls | Sqm | ၁၆,၈၀၀ | ၆၀,၀၀၀ |
| ၈ | Flooring | Sqm | ၅,၂၅၀ | ၆၀,၀၀၀ |
| ၉ | Vanity | Set | ၂၁၀ | ၆၀,၀၀၀ |

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်ပတင်ပို့၃၀%)

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ရောင်းချမည့်ဈေးနှုန်း ( US $ ) |
|---|---|---|---|---|
| ၁ | Doors | Set | ၆၇၅ | ၁၈၀ |
| ၂ | Wardrobes | Set | ၉၀ | ၅၀၀ |
| ၃ | Beds | Set | ၉၀ | ၃၀၀ |
| ၄ | Kitchen | Set | ၄၅ | ၈၀၀ |
| ၅ | Chairs (Sofa+Coffee) | Set | ၉၀ | ၆၀၀ |
| ၆ | Tables | Set | ၄၅ | ၁,၂၀၀ |
| ၇ | Ceiling Walls | Sqm | ၇,၂၀၀ | ၆၀ |
| ၈ | Flooring | Sqm | ၂,၂၅၀ | ၆၀ |
| ၉ | Vanity | Set | ၉၀ | ၆၀ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၅.၁၅၆ သန်း |
| | အသုံးစရိတ် | - US$ ၅.၁၄၂ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၀.၀၁၄သန်း |

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | <br>- US$ ၄,၀၀၀<br>- US$ ၁၀၆,၁၆၀<br>- ၄ နှစ် ၅ လ<br>- ၁၉ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၀ MVA |
| ၁၁။ | CSR | - ၂ % |
| ၁၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - ရေလှောင် ကန်ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေး အန္တရာယ်ကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ တိကျစွာလိုက်နာဆောင်ရွက်စေခြင်း၊ အရေးပေါ် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ်သောက်ခြင်းအား တားမြစ်ထားခြင်း၊ ဝန်ထမ်းများအား အလှည့်ကျ မီးကင်းစောင့်စေခြင်း၊ မီးလောင်လျှင် အလိုအလျောက်အချက်ပေးသည့် စနစ် တပ်ဆင်ခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | အခြားတင်ပြချက် | AA Interiors Myanmar Limited ၏ ကုမ္ပဏီ မှတ်ပုံတင် မိတ္တူ၊ MOA, AOA မိတ္တူ တင်ပြထားပါသည်။<br>-ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ Ayeyarwady Bank တွင် AA Interiors Myanmar Limited ၂၃-၁-၂၀၁၄ရက်နေ့တွင် US$ ၁,၄၅၃.၃၈ ရှိကြောင်း ၊ ၂၉-၇-၂၀၁၄ရက်နေ့ တွင် SG$ ၁၁၇,၅၉၆.၆၁ (US$ ၈၃,၅၂၈.၈၇) ရှိကြောင်းနှင့် ၂၃-၇-၂၀၁၄ ရက်နေ့တွင် ကျပ် ၆,၃၅၆,၃၀၆ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| ၁၄။ | စိစစ်တင်ပြချက် | - မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက်စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားချက်၊ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- မြန်မာ့သစ်လုပ်ငန်းမှ ကုန်ကြမ်းသစ်များ ဝယ်ယူမည့် ကိစ္စနှင့် ကုမ္ပဏီပိုင် သစ်တောစိုက်ခင်းများ ထူထောင်စိုက်ပျိုးမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1 US$ =1000 MMK ဖြင့် ဖော်ပြထားပါသည်။<br>- ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းခြင်း အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့လည်းကောင်း၊ စီးပွားရေးရာ ကော်မတီ၏ (၁၄/၂၀၁၅) အစည်းအဝေးသို့ လည်းကောင်း တင်ပြထားပြီးဖြစ်ပြီး ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြသွားမည် ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/န-၁၂၇/၂၀၁၅ ( )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် AA Interiors Myanmar Limited မှ အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ဗီယက်နမ်နိုင်ငံ AA Corporation မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် AA Interiors Myanmar Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀ ရှိ စုစုပေါင်း မြေဧရိယာ ၂.၂၉၄ ဧက အနက်မှ ၁.၀ ဧက (၄၀၄၆.၈၆ စတုရန်းမီတာ) ကို ငှားရမ်းကာ အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံအိမ်တွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Mermaid Smile Co., Ltd နှင့် မြေငှားသူ AA Interiors Myanmar Ltd အကြားချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၁.၀ ဧက (၄၀၄၆.၈၆ စတုရန်းမီတာ)ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ်လျှင် US$ ၇၂,၀၀၀.၀၀ ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ်ခန့် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၀.၆၆၄ သန်း ဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | Foreign Capital (US$ သန်း) |
|---|---|---|
| (က) | ငွေသား | ၀.၁၅၀ |
| (ခ) | စက်နှင့် စက်ပစ္စည်း | ၀.၃၂၂ |
| (ဂ) | ကုန်ကြမ်းပစ္စည်း | ၀.၁၀၂ |
| (ဃ) | လျှပ်စစ်ပစ္စည်း | ၀.၀၉၀ |
| | **စုစုပေါင်း** | **၀.၆၆၄** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၁၃၀ ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၂၅ ဦး စုစုပေါင်း ၁၅၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၂,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများအား ပြည်တွင်း၌ ၇၀% ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၃၀%တင်ပို့မည် ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား (ပြည်တွင်းရောင်း ၇၀%) | ရေတွက်ပုံ | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (Kyat/ Unit) |
|---|---|---|---|---|
| (က) | (၁) Doors | Set | ၁,၅၇၅ | ၁၈၀,၀၀၀ |
| | (၂)Wardrobes | Set | ၂၁၀ | ၅၀၀,၀၀၀ |
| | (၃) Beds | Set | ၂၁၀ | ၃၀၀,၀၀၀ |
| | (၄) Kitchen | Set | ၁၀၅ | ၈၀၀,၀၀၀ |
| | (၅) Chairs(Sofa+Coffee) | Set | ၂၁၀ | ၆၀၀,၀၀၀ |
| | (၆) Tables | Set | ၁၀၅ | ၁,၂၀,၀၀၀ |
| | (၇) Celling Wall | Sqm | ၁၆,၈၀၀ | ၆၀,၀၀၀ |
| | (၈) Flooring | Sqm | ၅,၂၅၀ | ၆၀,၀၀၀ |
| | (၉) Vanity | Set | ၂၁၀ | ၆၀,၀၀၀ |

| စဉ် | ပစ္စည်းအမျိုးအစား (ပြည်ပပို့၃၀%) | | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (US$/Unit) |
|---|---|---|---|---|
| (ခ) | (၁) Doors | Set | ၆၇၅ | ၁၈၀ |
| | (၂)Wardrobes | Set | ၉၀ | ၅၀၀ |
| | (၃) Beds | Set | ၉၀ | ၃၀၀ |
| | (၄) Kitchen | Set | ၄၅ | ၈၀၀ |
| | (၅)Chairs(Sofa+Coffee) | Set | ၉၀ | ၆၀၀ |
| | (၆) Tables | Set | ၄၅ | ၁,၂၀၀ |
| | (၇) Celling Wall | Sqm | ၇,၂၀၀ | ၆၀ |
| | (၈) Flooring | Sqm | ၂,၂၅၀ | ၆၀ |
| | (၉) Vanity | Set | ၉၀ | ၆၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၅.၁၅၆ |
| (ခ) | အသုံးစရိတ် | ၅.၁၄၂ |
| (ဂ) | အသားတင်အမြတ် | ၀.၀၁၄ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၄,၀၀၀ ဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန်မှာ အမေရိကန်ဒေါ်လာ ၁၀၆,၁၆၀ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၉ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ကြောင်း၊ ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တော စိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့်လျှောက်ထားဆောင်ရွက်နိုင်ကြောင်း၊လုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်မှုများရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း စနစ်အသုံးပြုရန်၊ အဆိုပြုလွှာ တွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေစုစုပေါင်း၏ (၂%) အား အသုံးပြုခြင်း

တို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊ ဆောင်ရွက် ရရှိသည့် အစီရင်ခံစာအရ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ် လုပ်မှုနည်းပညာများ၊ လုပ်ငန်း အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည် ဖော်ဆောင်ရွက်ရန် သဘောထား ပြန်ကြား ထားပါသည်။ **(ကုမ္ပဏီမှ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ Ayeyarwady Bank တွင် AA Interiors Myanmar Limited ၂၃-၁-၂၀၁၄ရက်နေ့တွင် US$ ၁၄၅၃.၃၈ရှိကြောင်း၊ ၂၉-၇-၂၀၁၄ ရက်နေ့တွင် SG$ ၁၁၇,၅၉၆.၆၁ (US$ ၈၃,၅၂၈.၈၇) ရှိကြောင်းနှင့် ၂၃-၇-၂၀၁၄ ရက်နေ့တွင် မြန်မာကျပ်ငွေ ၆,၃၅၆,၃၀၆ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ AA Interiors Myanmar Limited မှ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး အတွက်စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်း သဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားချက်၊ CSR Project၊မြန်မာ့သစ်လုပ်ငန်းမှ ကုန်ကြမ်းသစ်များ ဝယ်ယူမည့်ကိစ္စနှင့်ပတ်သက်၍ တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇွန်လ ၂၂ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၂၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စ အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅/၂၀၁၅) ကြိမ်မြောက် အစည်း အဝေးသို့လည်းကောင်း၊ စီးပွားရေးရာကော်မတီ၏ (၁၄/၂၀၁၅) အစည်းအဝေး သို့လည်းကောင်း တင်ပြထားပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြသွားမည် ဖြစ်ပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

၁၇။ **ဆုံးဖြတ်ရန်အချက်**

ဗီယက်နမ်နိုင်ငံမှ AA Corporation မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ နိုင်ငံတွင် AA Interiors Myanmar Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်၊ အမှတ်၂၀ရှိ စုစုပေါင်းမြေဧရိယာ ၁.၀၈ဧက (၄၀၄၆.၈၆ စတုရန်း မီတာ) ကို ငှားရမ်းကာ အိမ်တွင်းသုံးခေတ်မီသစ်သားပရိဘောဂများနှင့် သစ်သားအခြေခံ အိမ်တွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

AA Interiors Myanmar Limited ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | AA Interiors Myanmar Limited. | AA Corporation Represented by it Directors:,<br>(a) Mr. Ooi wee tat<br>Malaysian<br>A 28997789 | <br><br>No.123, Room No.(1402), Estella Building, Ha Noi Highway An Phu Ward, District 02, Ho Chi Minh City, Vietnam. |
| | | ( b) Mr. Nguyen Quoc Khanh<br>Vietnamese<br>B 9414374 | 164-Dien, Bien Phu Street, Ward No.(06,) District 03, Ho Chi Min City, Vietnam |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၄၂၀၁၂၄၈၄၂

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - No.123, Room No.(1402), Estella Building, Ha Noi Highway An Phu Ward, District 02, Ho Chi Minh City, Vietnam.

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Ooi wee tat
Director

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - အိမ်တွင်းသုံး ခေတ်မီ သစ်သားပရိဘောဂများ နှင့် သစ်အခြေခံအိမ်တွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / လုံခြုံ
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆. ၆. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၂၇/ ၂၀၁၅ (၄၉၂)

၁။ ဗီယက်နမ်နိုင်ငံ AA Corporation မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် AA Interiors Myanmar Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်(၁)၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ်-၂၀ ရှိ စုစုပေါင်းမြေဧရိယာ ၁. ၀ ဧက(၄၀၄၆. ၈၆ စတုရန်းမီတာ)ကို ငှားရမ်းကာ အိမ်တွင်းသုံး ခေတ်မီသစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်း အလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှု အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၃၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်(၁)၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ်-၂၀ ရှိ စုစုပေါင်းမြေဧရိယာ ၁. ၀ ဧက(၄၀၄၆. ၈၆ စတုရန်းမီတာ)အား တစ်နှစ်အတွက် မြေတစ်စတုရန်းမီတာလျှင် USD 17.79 နှုန်းဖြင့် နှစ်(၃၀) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၉. ၇. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/ ၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄)အရ AA Interiors Myanmar Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း တောက်ခံတင်ပြအပ်ပါ သည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
AA Interiors Myanmar Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/..(12)





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT. 3384
30.7.2015

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/( ၁၆၁၁ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၆-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၂၇ / ၂၀၁၅ ( ၄၉၃ )

၁။ ဗီယက်နမ်နိုင်ငံ AA Corporation မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် AA Interiors Myanmar Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ် ၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန် (၁) ၊ ဦးဖိုးလှိုင်လမ်း ၊ မြေကွက်အမှတ် - ၂၀ ရှိ စုစုပေါင်း မြေဧရိယာ ( ၁.၀ ) ဧက ( ၄၀၄၆.၈၆ စတုရန်းမီတာ ) ကို ငှားရမ်းကာ အိမ်တွင်းသုံး ခေတ်မီ သစ်သားပရိဘောဂများ နှင့် သစ်အခြေခံ အိမ်တွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ အိမ်တွင်းသုံးခေတ်မီ သစ်သား ပရိဘောဂများ နှင့် သစ်အခြေခံ အိမ်တွင်း အလှဆင် ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် ကုန်ကြမ်းပစ္စည်း များ သိုလှောင်ခြင်း ၊ သုံးစွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များ ၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ၊ လေ၊ မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်း မှုနှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက်တည်ထောင်ခြင်းသည် သစ်တောဥပဒေ ၊ လုပ်ထုံး လုပ်နည်း များ နှင့် အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့ သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း / ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက် ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း နှင့် ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့

ပုဂ္ဂလိကသစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ AA Interiors Myanmar Limited မှ အိမ်တွင်းသုံးခေတ်မီသစ်သား ပရိဘောဂ များနှင့် သစ်အခြေခံအိမ်တွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက် အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြ ပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု (CSR) အား အမြတ်ငွေ စုစုပေါင်း ၏ ၂% ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက် ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ် ခြင်း (Initial Environmental Examination) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဂ) အဆိုပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်း များ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

DPT.3088
6-7-2015

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆(၁၂၁၆)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်

သို့

DC, 24 17/7

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၆. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၂၇/ ၂၀၁၅ (၄၉၄)

၁။ AA Interiors Myanmar Limited သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်(၁)၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ်(၂၀)တွင် အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး အိမ်တွင်းသုံးခေတ်မီ သစ်သားပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ AA Interiors Myanmar Limited မှ အိမ်တွင်းသုံးခေတ်မီ သစ်သား ပရိဘောဂများနှင့် သစ်အခြေခံ အိမ်တွင်းအလှဆင်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၅.၇.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန